




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၀၇၂/၂၀၁၅ ။ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးအောင်မြတ်

(ခ) အဘအမည် ဦးသိန်းမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉

(ဃ) နေရပ်လိပ်စာ အမှတ်-(၃၇)၊ ဝေဇယန္တာလမ်း၊ (၉)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Mother Trading Company Limited ( အမေရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်အချောထည်၊ သစ်သား တံခါးအမျိုးမျိုး၊ ပါကေး၊ လှေ့ကားထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ အမှတ်-(၂၃)၊ ကျိုက်ဝိုင်းဘုရားလမ်း၊ သံထည်သစ်သားထည်လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း) ရှိ မြေဧရိယာ ၂.၄၀၂ ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁,၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၀၆ သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်ထောင် သန်း တိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၆၁ / ၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၄ ရက်

၁။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ အမှတ်-၂၃၊ ကျိုက်ဝိုင်းဘုရားလမ်း၊ သံထည်သစ်သားထည်လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း) ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂.၄၀၂၈ဧကတွင် သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မြတ် (အဘ- ဦးသိန်းမြင့်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) အား သစ်အချောထည်၊ သစ်သားတံခါး အမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၇၂/၂၀၁၅ကို ထုတ်ပေးလိုက်သည်။

၂။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်

ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန်သက်သာခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှ စ၍ တစ်ဆက်တည်းသုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်းတွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ် ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊

စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ဓ) ဥပဒေပုဒ်မ ၂၀(ဌ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့်ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သစ်ကုန်ကြမ်း ရရှိနိုင်ရေး အတွက် မြန်မာနိုင်ငံ၌ ပေါက်ရောက်သော သစ်အမျိုးအစားများအား ပြည်ပမှ တင်သွင်းခြင်း မပြုရ။

၅။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းချမှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှား စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့်(၂)ကြိမ်ဖြစ်ပါသည်။ ထိုသို့စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရပြီးမှသာအတည်ဖြစ်သည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက် ရာတွင်မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်း သည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေနိုင်ရေးတို့အတွက်လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေးထိခိုက်မှု အနည်းဆုံး

ဖြစ်စေနိုင်ရေးတို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေနိုင်ရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP)ကိုရေးဆွဲတင်ပြပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၉။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၀။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် သစ်ကုန်ကြမ်းရရှိရေးအတွက် ပုဂ္ဂလိက သစ်တောစိုက်ခင်း ထူထောင် စိုက်ပျိုးနိုင်ရန် သစ်တော ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက် ရမည်။

၁၁။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်း ဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၂။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရေး အတွက်လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၃။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည် ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၅။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်) လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင်ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၇။ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသောခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာကစစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သောနာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂/မ-၂၀၉/၂၀၁၅ (၅၄၅-၁ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၄ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာသစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ကန့်သတ်

၈

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ အမေရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် (Mother Trading Company Limited)

ကုမ္ပဏီအမည် - Mother Trading Company Limited

လုပ်ငန်း - သစ်အချောထည်၊ သစ်သားတံခါး အမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၇-၃-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၈-၃-၂၀၁၅ | ၃၀-၃-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၉-၃-၂၀၁၅ | ၇-၄-၂၀၁၅ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၁၉-၃-၂၀၁၅ | ၂၂-၄-၂၀၁၅ | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၇-၄-၂၀၁၅ | ၂၃-၄-၂၀၁၅ | |
| | (ဃ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၁၉-၃-၂၀၁၅ | | |
| | စက်မှုဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၇-၄-၂၀၁၅ | ၂၂-၄-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | ၂၃-၃-၂၀၁၅<br>၁၂/၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၃-၃-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင် တင်ပြခြင်း | ၈-၅-၂၀၁၅ | | |
| ၆ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉ / ၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | ၁၅-၅-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၅၈ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Mother Trading Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင်ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | အမှတ်-၂၃၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ် (၃) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁,၀၀၀.၀၀ သန်း |
| ရောင်းချမည့်စနစ် | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | ၅ နှစ် နှင့် ၁၀ လ |
| IRR | ၂၆.၀၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၆၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၁၄၆.၈၁၀ |
| ၅ | ဝင်ငွေခွန် | ၂၆၃.၀၀၄ | ၄၃၂.၀၅၉ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၅၉.၉၂၃ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း( ၆ )ဦး |
| ၈ | CSR ( ၂ %) | | ၆.၃၄၆ |
| ၉ | မြေငှားရမ်းခရငွေ | | ၇၂.၀၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၈ ဦး<br>ပြည်တွင်းလုပ်သား (၇၈) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှု ကို အထောက်အကူ ပြုစေပါသည်။ |
| | | ၂၆၅.၇၆၄ | ၁၇၁၈.၃၀၃ |
| | Cost & Benefit | ၁:၆ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Mother Trading Company Limited မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Mother Trading Company Limited<br>- ဦးအောင်မြတ် (အဘ-ဦးသိန်းမြင့်) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - အမှတ်-၂၃၊ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း၏ သံထည်သစ်သားထည်လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း)၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ် (၃) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| | မြေအကျယ်အဝန်း | - ၂.၄၀၂ ဧက |
| | လုပ်ငန်းသက်တမ်း | - ကနဦး နှစ် ၅၀ |
| | မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၂၄.၀၀ သန်း |
| ၃။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁,၀၀၀.၀၀ သန်း** (US$ ၆၀,၀၀၀ အပါအဝင်) |
| | - ငွေသား | ကျပ် ၉၁၆.၀၀ သန်း |
| | - မြေငှားရမ်းခ | ကျပ် ၂၄.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ(ပြည်ပဝယ်) | ကျပ် ၆၀.၀၀ သန်း (US$ ၆၀,၀၀၀) |
| ၅။ | ဝန်ထမ်းအင်အား | - ၇၈ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်)  |
| ၆။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၁၀၀% ပြည်တွင်းရောင်း) | |

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု (တန်) | ရောင်းဈေးနှုန်း (ကျပ်/ တန်) |
|---|---|---|---|
| | ကျွန်း (T&G Parquet) | | |
| ၁။ | ၄"x ၁" | ၅၀၀ | ၃,၂၉၉,၄၀၀ |
| ၂။ | ၆"x ၁" | ၅၀၀ | ၃,၃၀၀,၀၀၀ |
| ၃။ | ၅"x ၁" | ၅၀၀ | ၃,၃၀၀,၄၈၀ |
| | ပျဉ်းကတိုး (T&G Parquet) | | |
| ၄။ | ၄"x ၁" | ၃၅၀ | ၁,၉၉၉,၈၀၀ |
| ၅။ | ၆"x ၁" | ၃၅၀ | ၂,၀၀၀,၄၀၀ |
| ၆။ | ၅"x ၁" | ၃၅၀ | ၂,၀၁၃,၁၂၀ |
| ၇။ | ၅"x၂"(ကျည်းဘောင်) | ၃၅၀ | ၂,၀၀၀,၁၆၀ |

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု (တန်) | ရောင်းဈေးနှုန်း (ကျပ်/ တန်) |
|---|---|---|---|
| | အင်/ ကညင် (သစ်ခွဲသား) | | |
| ၈ ။ | ၃"x ၁" | ၂,၆၀၀ | ၆၀၀,၀၀၀ |
| ၉ ။ | ၃"x ၂" | ၂,၅၅၀ | ၆၀၀,၀၀၀ |
| ၁၀။ | ၄"x ၂" | ၂,၅၀၀ | ၆၀၀,၃၀၀ |
| | အခြား | ထုတ်လုပ်မှု | ရောင်းရငွေ (ကျပ်/ Unit) |
| ၁၁။ | တံခါး | ၄ ချပ် | ၃၁၂,၅၀၀ |
| ၁၂။ | စားပွဲ+ကုလားထိုင် | ၄ စုံ | ၁၅၀,၀၀၀ |
| ၁၃။ | ကုလားထိုင် | ၈ လုံး | ၈၅,၀၀၀ |

| | | |
|---|---|---|
| ၇။ | ကုမ္ပဏီ၏ (၆)နှစ်မြောက် | |
| | ဝင်ငွေ | - ကျပ် ၁၂,၃၇၇.၉၅ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၁၉၉၈.၆၈ သန်း |
| | အသားတင်အမြတ် | - ကျပ် ၃၇၉.၂၇ သန်း |
| ၈။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၁၂၆.၄၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆၁၈.၉၀ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် နှင့် ၁၀ လ |
| | အရင်းအနှီးပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၆% |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၄၄,၀၁၀ Unit |
| ၁၀။ | CSR | - အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ပါသည်။ |
| ၁၁။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - သံကူ၊ ကွန်ကရစ်(RC) ဖြင့် ဂါလံ ၁၀၀,၀၀၀ ဆန့် ရေလှောင်ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ်ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာ လိုက်နာဆောင်ရွက်စေခြင်း၊ အရေးပေါ်မီးသတ် နည်းပညာများလေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းနှင့် ထမင်းဟင်းချက်ခြင်းအား တားမြစ်ထားခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက် | - မြန်မာနိုင်ငံ၊ Myanma Apex Bank တွင် ဦးအောင်မြတ် အမည်ဖြင့် ၁၅-၈-၂၀၁၄ နေ့ရှိ ငွေစာရင်း လက်ကျန် ကျပ် ၂,၂၉၉,၁၆၅,၂၁၁.၈၃ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ၊ United Amara Bank တွင် ဦးအောင်မြတ် အမည်ဖြင့် ၁၀-၂-၂၀၁၄ နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၆,၉၁၄,၂၁၈,၀၂၁.၇၈ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ ကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့သည့် စာအား တင်ပြထားပါသည်။<br>- မရမ်းကုန်းမြို့နယ်၊ အုပ်ချုပ်ရေးမှူးမှ အဆိုပြုစက်ရုံ ငှားရမ်းခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံစာ တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆို ထားသော သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူ စာချုပ် (၂၀၁၂ ခုနှစ်)၊<br>- စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆို ထားသော သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူ စာချုပ် (၂၀၁၃ ခုနှစ်)၊<br>- စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆို ထားသော သံထည်၊ သစ်သားထည် လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်း တိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်၊<br>- စက်မှုဝန်ကြီးဌာန၏ စက်ရုံအား သက်တမ်းတိုးမြှင့် ငှားရမ်းရန် ပြင်ဆင်ချုပ်ဆိုမည့်စာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊<br>- စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းနှင့် Mother Trading Company Limited တို့ ချုပ်ဆိုထားသော သံထည်၊ သစ်သားထည်လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)၊ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - စက်မှုဝန်ကြီးဌာန၏ စက်ရုံအား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူ စာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊<br>- Mother Trading Company Limited ၏ ၂၀၁၂ - ၂၀၁၃ ဘဏ္ဍာနှစ်၏ ဘဏ္ဍာရေးရှင်းတမ်း တင်ပြထားပါသည်။<br>- Mother Trading Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်၊ ပုံစံ (၆)၊ (၂၆)၊ MOA, AOA (မိတ္တူ)များအား တင်ပြထားပါသည်။<br>- လုပ်ငန်းခွင် သာယာရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေး၊ မီးဘေးလုံခြုံရေးစီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုလွှာ၊ သစ်ကုန်ကြမ်းရယူမည့်အစီအစဉ်၊ ကုမ္ပဏီပိုင်ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်မည့် ဝန်ခံကတိပြုလွှာ၊ IEE နှင့် EMP အစီရင်ခံစာများ ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုလွှာ၊ လက်ရှိအဆောက်အဦဓာတ်ပုံများ၊ ထုတ်ကုန်ဓာတ်ပုံများအား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၀)၊ ပုဒ်မ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ ၂၀၁၂ ခုနှစ် ဇွန်လ ၂၀ ရက်နေ့တွင် ချုပ်ဆိုခဲ့သော သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ (ကျိုက်ပိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်တွင် စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်နှင့် စက်ပစ္စည်းများအပါအဝင် ငှားရမ်းခနှုန်းထားမှာ တစ်နှစ်လျှင် ကျပ် ၁၈.၀၀ သန်းဖြင့် သတ်မှတ် ချုပ်ဆိုခဲ့ပြီး၊ ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်နေ့တွင် ချုပ်ဆိုခဲ့သော စာချုပ်တွင်မူ ငှားရမ်းခနှုန်းထားအား တစ်နှစ်လျှင် ကျပ် ၂၄.၀၀ သန်းဖြင့် ပြင်ဆင် ချုပ်ဆိုခဲ့ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက - ၂/ မ-၂၀၉/၂၀၁၅ (၃၅၉)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အမေ ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Mother Trading Company Limited) မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ အမေ ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Mother Trading Company Limited) သည် ရန်ကုန်တိုင်း ဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ ကျိုက်ဝိုင်း ဘုရားလမ်း၊ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း၊ အမှတ်-၂၃ ရှိ မြေအကျယ် (၂.၄၀၂) ဧကတွင် သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း၏ သံထည်၊ သစ်သားထည်လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း)အား နှစ်ရှည်ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး၊ မြေအကျယ်အဝန်းမှာ ၂.၄၀၂ ဧက ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ် ၂၄.၀၀ သန်းဖြစ်ပါသည်။

၃။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၁,၀၀၀.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ပါဝင်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၉၁၆.၀၀ သန်း |
| (ခ) | မြေငှားရမ်းခ | ကျပ် | ၂၄.၀၀ သန်း |
| (ဂ) | စက်ပစ္စည်းကိရိယာ (ပြည်ပဝယ်) | ကျပ် | ၆၀.၀၀ သန်း (US$ ၆၀၀၀၀) |
| | **စုစုပေါင်း** | **ကျပ်** | **၁,၀၀၀.၀၀ သန်း** (US$ ၆၀၀၀၀ အပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၇၈) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း၌ ရာခိုင်နှုန်းပြည့် ရောင်းချမည် ဖြစ်ပြီး ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (တန်) | ရောင်းဈေးနှုန်း (ကျပ်/ တန်) |
|---|---|---|---|
| | ကျွန်း: (T&G Parquet) | | |
| (က) | ၄"x ၁" | ၅၀၀ | ၃,၂၉၉,၄၀၀ |
| (ခ) | ၆"x ၁" | ၅၀၀ | ၃,၃၀၀,၀၀၀ |
| (ဂ) | ၅"x ၁" | ၅၀၀ | ၃,၃၀၀,၄၈၀ |
| | ပျဉ်းကတိုး (T&G Parquet) | | |
| (ဃ) | ၄"x ၁" | ၃၅၀ | ၁,၉၉၉,၈၀၀ |
| (င) | ၆"x ၁" | ၃၅၀ | ၂,၀၀၀,၄၀၀ |
| (စ) | ၅"x ၁" | ၃၅၀ | ၂,၀၀၃,၁၂၀ |
| (ဆ) | ၅"x၂" (ကျည်းတောင်) | ၃၅၀ | ၂,၀၀၀,၁၆၀ |
| | အင်/ ကညင် (သစ်ခွဲသား) | | |
| (ဇ) | ၃"x ၁" | ၂,၆၀၀ | ၆၀၀,၀၀၀ |
| (ဈ) | ၃"x ၂" | ၂,၅၅၀ | ၆၀၀,၀၀၀ |
| (ည) | ၄"x ၂" | ၂,၅၅၀ | ၆၀၀,၃၀၀ |
| | အခြား | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်/Unit) |
| (ဋ) | တံခါး | ၄ ချပ် | ၃၁၂,၅၀၀ |
| (ဌ) | စားပွဲ+ကုလားထိုင် | ၄ စုံ | ၁၅၀,၀၀၀ |
| (ဍ) | ကုလားထိုင် | ၈ လုံး | ၈၅,၀၀၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | - ကျပ် ၁၂,၃၇၇.၉၅ သန်း |
| (ခ) | အသုံး စရိတ် | - ကျပ် ၁၁,၉၉၈.၆၈ သန်း |
| (ဂ) | အသားတင်အမြတ် | - ကျပ် ၃၇၉.၂၇ သန်း |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၆၁၈.၉၀ သန်း |
| (ခ) | ဝင်ငွေခွန် | ကျပ် ၁၂၆.၄၂ သန်း |

၈။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၆ % ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေကြောင်း၊ အဆိုပြုမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက်ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ သစ်လုံးများ ခွဲစိတ်ပုံဖော်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများ ထိန်းချုပ်စနစ် ထည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများ လုပ်ငန်းခွင်လုံခြုံစိတ်ချမှုရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေး

ပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် ဆူညံသံအတွက် ဆူညံသံထိန်းချုပ်နည်းစနစ်များ၊ အစီအမံများရေးဆွဲ ဆောင်ရွက်ရန်၊ လုပ်ငန်းခွင်နှင့် ဝန်ထမ်းအိမ်ယာများမှထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများ ကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည် သန့်စင်စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ စီမံချမှတ်ရေးဆွဲဆောင်ရွက်ရန်၊ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာ (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ ပြုစုတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ရေရှည်တွင် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် ကုမ္ပဏီပိုင်ပုဂ္ဂလိက သစ်တော စိုက်ခင်းများ တည်ထောင်သင့်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **(ကုမ္ပဏီမှ IEE နှင့် EMP ရေးဆွဲရေးနှင့် ပုဂ္ဂလိကသစ်စိုက်ခင်း တည်ထောင်ရေးအတွက် ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံ၊ Myanma Apex Bank တွင် ဦးအောင်မြတ် အမည်ဖြင့် ၁၅-၈-၂၀၁၄ နေ့ရှိ ငွေစာရင်း လက်ကျန် ကျပ် ၂,၂၉၉,၁၆၅,၂၁၁.၈၃ ရှိကြောင်း အထောက်အထား နှင့် မြန်မာနိုင်ငံ၊ United Amara Bank တွင် ဦးအောင်မြတ် အမည် ဖြင့် ၁၀-၂-၂၀၁၄ နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၆,၉၁၄,၂၁၈,၀၂၁.၇၈ ရှိကြောင်း အထောက် အထား တင်ပြထားပါသည်။

၁၁။ Mother Trading Company Limited မှ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း၏ သံထည်၊ သစ်သားထည် လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းခြင်းနှင့် ပတ်သက်၍ တစ်ဖက်ဖော်ပြပါ စာချုပ်များကို တင်ပြထားပါသည်-

(က) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆိုထားသော သံထည်၊ သစ်သားထည် လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းဆောင်ရွက်သည့်သဘောတူစာချုပ်(၂၀၁၂ခုနှစ်)

(ခ) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆိုထားသော သံထည်၊ သစ်သားထည် လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းဆောင်ရွက်သည့်သဘောတူစာချုပ်(၂၀၁၃ခုနှစ်)

(ဂ) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ချုပ်ဆိုထားသော သံထည်၊ သစ်သားထည် လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ် ၊

(ဃ) စက်မှုဝန်ကြီးဌာန၏စက်ရုံအား သက်တမ်းတိုးမြှင့် ငှားရမ်းရန် ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊

(င) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ ချုပ်ဆိုထားသော သံထည်၊ သစ်သားထည်လုပ်ငန်း စက်ရုံခွဲ (ကျိုက်ဝိုင်း)အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ် သက်တမ်း တိုးမြှင့်လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူ စာချုပ် (မူကြမ်း)၊

(စ) စက်မှုဝန်ကြီးဌာန၏ စက်ရုံအား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊

၁၂။ လုပ်ငန်းခွင် သာယာရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေး၊ မီးဘေးလုံခြုံရေး စီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ လုပ်ငန်း သဘောသဘာဝ၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုလွှာ၊ သစ်ကုန်ကြမ်း ရယူမည့် အစီအစဉ်၊ ကုမ္ပဏီပိုင် ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်မည့် ဝန်ခံကတိပြုလွှာ၊ IEE နှင့် EMP အစီရင်ခံစာများ ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုလွှာ၊ လက်ရှိ အဆောက်အဦဓာတ်ပုံများ၊ ထုတ်ကုန်ဓာတ်ပုံများအား တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက် ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် မတ်လ ၂၃ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၁၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အမေ ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Mother Trading Company Limited) သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၀၀၀/ ၁၉၉၇- ၁၉၉၈ (၁၂-၉-၁၉၉၇) ဖြင့် မှတ်ပုံတင်ထားရှိပြီးဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် Mother Trading Company Limited တို့ ၂၀၁၂ ခုနှစ် ဇွန်လ ၂၀ ရက်နေ့တွင် ချုပ်ဆိုခဲ့သော သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်တွင် စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်နှင့် စက်ပစ္စည်းများ အပါအဝင် ငှားရမ်းခနှုန်းထားမှာ တစ်နှစ်လျှင် ကျပ် ၁၈.၀၀ သန်းဖြင့် သတ်မှတ် ချုပ်ဆိုခဲ့ပြီး၊ ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်နေ့တွင် ချုပ်ဆိုခဲ့သော စာချုပ်တွင်မူ ငှားရမ်းခနှုန်းထားအား တစ်နှစ်လျှင် ကျပ် ၂၄.၀၀ သန်းဖြင့် ပြင်ဆင် ချုပ်ဆိုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

အမေ ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Mother Trading Company Limited) သည် ရန်ကုန်တိုင်း ဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ ကျိုက်ဝိုင်း ဘုရားလမ်း၊ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၊ အမှတ် - ၂၃ ရှိမြေအကျယ် (၂.၄၀၂) ဧကတွင် သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လျှာထိုး၊ ဘီတင် ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနမှ အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

Mother Trading Company Limited ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁ | ဦးအောင်မြတ် ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉ | မန်နေးဂျင်းဒါရိုက်တာ | အမှတ်-၃၇၊ ဝေဇယန္တာလမ်း၊ အမှတ်-၉ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ |
| ၂ | ဒေါ်မြင့်မြင့်အေး ဝိဒီဂျီ- ၀၇၂၅၆၁ | ဒါရိုက်တာ | အမှတ်-၃၇၊ ဝေဇယန္တာလမ်း၊ အမှတ်-၉ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ |
| ၃ | ဦးမောင်မောင်ဝင်း ၁၂/ ကမရ (နိုင်) ၀၂၈၇၁၉ | ဒါရိုက်တာ | အမှတ်-၉၇/တီ၊ သံလွင်လမ်း၊ ၁၀ ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | အမှတ်-၃၇၊ ဝေဇယန္တာလမ်း၊ အမှတ်-၉ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးအောင်မြတ် |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | ၁၀၀၀/၁၉၉၇-၂၀၀၈ (၁၂-၉-၁၉၉၇) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | ၁-၃-၂၀၁၃ မှ ၂၈-၂-၂၀၁၆ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | Myanma Apex Bank၊ 0020122002000016020 |




ကန့်သတ်

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၂ ) / စိုက်မွေး

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉. ၃. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကဝ - ၂/ မ - ၂၀၉ / ၂၀၁၅ (၂၂၁)

၁။ Mother Trading Co;Ltd. သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်-၂၃ရှိ မြေအကျယ် ၂. ၄၀၂ဧကတွင် သစ်အချောထည်၊ သစ်သားတံခါး အမျိုးမျိုး၊ ပါကေး၊ လှေကားထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား လက်ရှိ(၃၃)ဦးနှင့် လုပ်ငန်း စတင်ချိန်(၁၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် အမှတ်-၂၃၊ အမှတ် (၃)ရပ်ကွက်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ မရမ်းကုန်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေအကျယ် ၂. ၄၀၂ ဧကတွင် အဆောက်အဦငှားရမ်းခ အဖြစ် တစ်နှစ်လျှင် ၂၄၀၀၀၀၀၀/- (ကျပ်နှစ်ဆယ့်လေးသန်းတိတိ)နှုန်းဖြင့် ၁. ၇. ၂၀၁၂ ရက်နေ့မှ ၃၀. ၆. ၂၀၆၂ ရက်နေ့ထိ ကနဦး(၅၀)နှစ်၊ ထပ်တိုး(၁၀)နှစ် နှစ်ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/15.(9)

ကန့်သတ်
၁၅

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂. ၄. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၂)အရ Mother Trading Co;Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အတွင်းရေးမှူး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မရမ်းကုန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Mother Trading Co;Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ကန့်သတ်

၁၆ နောက်ဆက်တွဲ- ခ



IC, 13
9/4

NPF. 2178
8-4-15

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၄)(၂၇၃၈/၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၃-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၀၉ / ၂၀၁၅ ( ၂၂၂ )

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Mother Trading Co.,Ltd မှ ရခိုင်ရှုန်းပြည့် မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်(၂၃)ရှိ မြေအကျယ် (၂.၄၀၂)ဧကတွင် သစ်အချောထည်၊ သစ်သား တံခါးအမျိုးမျိုး၊ ပါကေး၊ လျှာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍တွက်ချက်ထားမှုများ၊ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်နှင့် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး နှစ်(၅၀)ဖြစ်ကြောင်း၊ နှစ်စဉ်ရေလိုအပ်ချက်အနေဖြင့် (၆၄၈,၀၀၀) ဂါလန်မှ (၂,၄၆၀,၆၇၀) ဂါလန်အား စည်ပင်ရေသုံးစွဲမှုမရှိပဲ မြေအောက်ရေကိုသာ သုံးစွဲမည်ဖြစ်ကြောင်း၊ သုံးစွဲမည့်ကုန်ကြမ်း ပစ္စည်းများအနေဖြင့် ကျွန်း (၈၀၀)တန် မှ (၃၇၀၀)တန်၊ ပျဉ်းကတိုး (၈၀၀)တန် မှ (၃၇၀၀)တန်အား ပါကေး ထုတ်လုပ်ရန်လည်းကောင်း၊ အင်/ကညင် (၈၄၀၀)တန် မှ (၁၅၀၀၀) တန်အား သစ်အချောထည် ထုတ်လုပ်ရန် နှစ်အလိုက် တိုးမြှင့်သုံးစွဲသွားမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ထုတ်လုပ်မှု နည်းစဉ် နှင့် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စီမံခန့်ခွဲမှုအစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်း မရှိကြောင်း နှင့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု(CSR)အတွက် ထည့်ဝင်မည့်ရန်ပုံငွေတို့အား တိကျစွာ ထည့်သွင်းဖော်ပြရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် သစ်လုံးများအား ခွဲစိတ်ပုံဖော်ရာမှထွက်ရှိလာမည့် အမှုန်အမွှားများအား စနစ်တကျသန့်စင်ထိန်းချုပ်မှုမရှိပါက ပတ်ဝန်းကျင် နှင့်လုပ်သားများအပေါ်ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ လုပ်ငန်းဆောင်ရွက်ရာမှ

ထွက်ရှိလာမည့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု ဖြစ်စေနိုင်ခြင်း ၊ ထွက်ရှိလာမည့် စွန့်ပစ်လွှစာမှုန့်များအား စနစ်တကျစွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊ နှစ်စဉ် ရေ(၆၄၈,၀၀၀) ဂါလန်မှ (၂,၄၆၀,၆၇၀) ဂါလန် အထိ မြေအောက်ရေထုတ်ယူ သုံးစွဲမည် ဖြစ်သဖြင့် မြေအောက် ရေခန်းခြောက်မှု မရှိစေရေး စနစ်တကျ စီစဉ်ဆောင်ရွက်မှု မရှိပါက မြေအောက် ရေအရည်အသွေး လျော့နည်းကျဆင်းလာနိုင်ခြင်း ၊ လုပ်ငန်းခွင်လုံခြုံရေး ကိရိယာများ စနစ်တကျတပ်ဆင်အသုံးမပြုပါကလုပ်သားများအပေါ် ထိခိုက်မှုအန္တရာယ်များဖြစ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ Mother Trading Co.,Ltd မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အတွက်ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ခ) သစ်လုံးများခွဲစိတ်ပုံဖော်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ်စနစ် ထည့်သွင်းဆောင်ရွက်ရန် နှင့် လုပ်သားများလုပ်ငန်းခွင်လုံခြုံစိတ်ချမှုရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေးပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊

(ဂ) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် ဆူညံသံအတွက် ဆူညံသံထိန်းချုပ်နည်းစနစ်များ၊ အစီအမံများရေးဆွဲဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းခွင်နှင့်ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ နှင့် စွန့်ပစ်ပစ္စည်း များကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည် သန့်စင်စနစ် ထားရှိရန်နှင့် စွန့်ပစ်အရည် / ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(င) အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ၊ (Initial Environmental Examination- IEE ) ဆောင်ရွက်ရန်၊

(စ) အထက်ပါ ဆန်းစစ်တွေ့ရှိချက်များ အပေါ်အခြေခံ၍ လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျှော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲပြုစုတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ကန့်သတ်

၁၉



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-2280
22.4.15
TIC, 21, 23/4

စာအမှတ်
ရက်စွဲ ၂/၂၂၀(ခ)(၆)/(၂၈၁၂ /၂၀၁၅)
၂၀၁၅ ခုနှစ်၊ဧပြီလ ၂၀ ရက်

သို့
✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၃-၂၀၁၅ရက်စွဲပါစာအမှတ်၊ ရက-၂ /မ-၂၀၉/၂၀၁၅(၂၂၂)
(၂)ဤပြည်ထောင်စုဝန်ကြီးဌာန၏ ၆-၄-၂၀၁၅ရက်စွဲပါစာအမှတ်၊ ၂ / ၂၂၀ (ခ)(၄)/(၂၇၃၈/၂၀၁၅)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ Mother Trading Co.,Ltd မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်(၂၃)ရှိ မြေအကျယ် (၂.၄၀၂)ဧကတွင် သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး ၊ ပါကေး ၊ လျှာထိုး ၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၂)ပါစာဖြင့် ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါ Mother Trading Co.,Ltd မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး ၊ လျှာထိုး ၊ ဘီတင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား စက်ရုံတည်ဆောက်ရာတွင် စက်ပစ္စည်းစာရင်း တင်ပြထားခြင်းမရှိပါ၍ စိစစ်နိုင်ခြင်းမရှိပါ ၊ သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဥပဒေ ၊ လုပ်ထုံးများ နှင့် အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး ကိုက်ညီမည် ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း နှင့် ရေရှည်တွင် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် ကုမ္ပဏီပိုင် ပုဂ္ဂလိက သစ်တောစိုက်ခင်းများ တည်ထောင်သင့်ပါကြောင်း ထပ်မံစိစစ် ပြန်ကြားအပ်ပါသည်။

20/5

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ။ -ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

D:\DTTW\SEC-B\DSSY\Dssy (1-4-2015)(MIC).doc7

နောက်ဆက်တွဲ-ဂ



ကန့်သတ်

၂၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၀-စမ(၂)၂၀၁၄-၂၀၁၅(၁၂၀)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၃.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၀၉/၂၀၁၅ (၂၂၃)

၁။ Mother Trading Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်(၂၃)တွင် သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လျှာထိုး၊ ဘီတင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လျှာထိုး၊ ဘီတင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှု ရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ကုန်ချောဈေးနှုန်း ဆီလျော်မှု ရှိပါသည်။

(ဆ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှု ရှိပါသည်။

၃။ သို့ပါ၍ Mother Trading Co.,Ltd. မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၆-၄-၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း